


မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်



# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်မ နသ – ၀၀၅/၉၅ ၁၉၉၅ ခုနှစ်၊ ၆မေ လ ၈ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦး ကျော်ပိုင်

(ခ) အဘအမည် စည်သူ ဦး ပိုင်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၂/ RGH – ၀၂၁၀၄၄

(ဃ) နေရပ်လိပ်စာ အမှတ် – ၁၁၁၊ ငါး ထပ်ကြီး ဘုရား လမ်း ဗဟန်း မြို့နယ်၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း အက် (စ်) အမ်အိုင်ဆင်ဒီကေး ရှင်း လီမိတက်

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား အက် (စ်)၊အမ်၊အိုင်စင်န်တာ အဆောက်အဦဆောက်လုပ်ပြီးဆိုင်ခန်းနှင့် ရုံးခန်း များငှားရမ်းရန်

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) အမှတ် – ၁၇၀၊ ပိုလ်ချုပ်အောင်ဆန်း လမ်း ပန်းဘဲတန်း မြို့နယ်၊ ရန်ကုန်မြို့

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) သန်း ၂၇၆ (ကျပ်နှစ်ရာခုနှစ်ဆယ့်ခြောက်သန်း တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၄ / ၉၅
ရန်ကုန်မြို့၊ ၁၃၅၇ ခုနှစ်၊ကဆုန်လဆန်း ၁၀ ရက်။
( ၁၉၉၅ ခုနှစ်၊ မေလ ၈ ရက်)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည်မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၅)၊ ပုဒ်မ-၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကိုကျင့်သုံးလျက် ရန်ကုန်လဲန်း ကုမ္ပဏီလီမိတက် နှင့် ဖတ်(စ်)မြန်မာအင်ဗက်(စ်)မင့်(န်)ကုမ္ပဏီလီမိတက်တို့ဖက်စပ်ပြုလျက်အက်(ဖ်)အမ်ဘိုင်ဆင်ဒီကေးရှင်းလီမိတက်တည်ထောင်ပြီး၊ မြန်မာ့မီးရထားပိုင်မြေကို ငှားရမ်း၍ကမ္ဘာ့အဆင့်မီ (၁၁) ထပ် အက်(ဖ်)အမ်ဘိုင်စင်န်တာ အဆောက်အဦ ဆောက်လုပ်ပြီး ဆိုင်ခန်းနှင့်ရုံးခန်းများ အဖြစ်ငှားရမ်းရန် လုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက်ခွင့်ပြုမိန့်အမှတ်၊ မနသ-၀၀၅/၉၅ ကိုထုတ်ပေးလိုက်သည်။

၂။ အက်(ဖ်)အမ်ဘိုင်ဆင်ဒီကေးရှင်းလီမိတက်အနေဖြင့် ၎င်းခွင့်ပြုမိန့်အရ ဆိုင်ခန်းနှင့်ရုံးခန်းများ အဖြစ်ငှားရမ်းရန်လုပ်ငန်းကို ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၇)၊ ပုဒ်မ-၁၂ အရ စီးပွားရေးလုပ်ငန်းတရားဝင်စတင်သည့်မှစ၍ တစ်ဆက်တည်း (၃) နှစ်အတွက်ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့်၊ ဥပဒေပုဒ်မ-၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် ဤအမိန့်ကြော်ငြာစာကိုထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ-၁၃(က)အရ၊ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သောနိုင်ငံခြားငွေပမာဏအပေါ်မူတည်၍ဝင်ငွေခွန်သက်သာခွင့်ကိုခံစားခွင့်ပြုသည်။ အဆိုပါသက်သာခွင့်ကို သတ်မှတ်ပေးနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့်ပမာဏကိုဖော်ပြလျက်ဤကော်မရှင်သို့လျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ-၁၃(ခ)အရ၊ လုပ်ငန်းမှ နိုင်ငံခြားငွေဖြင့် ရရှိသောအမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်း အထိကာလ အကန့်အသတ်ဖြင့် ဝင်ငွေခွန်သက်သာခွင့်ကိုခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ-၁၃(ဂ)အရ၊ ဝန်ဆောင်မှုလုပ်ငန်းကြောင့် ပြည်တွင်းပြည်ပဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့်ကို လုပ်ငန်း၏အမှန်တကယ်အကောင်အထည်ဖော်ဆောင်ရွက်နိုင်မှုအခြေအနေကို ဖော်ပြလျက်ဤကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ-၁၃(ဇ)အရ၊ ခွင့်ပြုမိန့်ရရှိပြီးကာလနောက်ပိုင်း ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌မရရှိနိုင်သည့်အမှန်တကယ်အသုံးပြုရန်လိုအပ်၍ပြည်ပမှတင်သွင်းသော စက်ပစ္စည်းများ၊ စက်ကရိယာများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင်အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကင်းလွတ်ခွင့်အတွက် ဤကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ-၁၃(ဈ)အရ၊ သတ်မှတ်ထားသည့်ကနဦးရင်းနှီးမြှုပ်နှံမှုကာလကုန်ဆုံး၍ဝန်ဆောင်မှုလုပ်ငန်းစတင်သည့် ပထမ(၃)နှစ်အတွက် ကော်မရှင်ကတင်သွင်းခွင့်ပြုသည့်လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင်အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကိုကင်းလွတ်ခွင့်ပြုသည်။

၃။ အဆိုပြုလုပ်ငန်းကိုဆောင်ရွက်ရန်အတွက် ရန်ကုန်မြို့၊ ဗိုလ်ချုပ်အောင်ဆန်းလမ်းမကြီးပေါ်ရှိ မြန်မာ့မီးရထားပိုင်မြေနေရာအားရန်ကုန်လိန်းကုမ္ပဏီလီမိတက်သို့ မြေနေရာငှားရမ်းခြင်းသဘောတူစာချုပ်ကိုသဘောတူလက်မှတ်ရေးထိုးရမည်။ ထိုသို့လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ်မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့တင်ပြရမည်။

၄။ အက်(ဖ်)အဝ်အိုင်ဆင်ဒီကေးရှင်း လီမိတက်သည် ဆိုင်ခန်းနှင့် ရုံးခန်းများ အဖြစ်ငှားရမ်းခြင်း လုပ်ငန်းကို ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှု စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို စနစ်တကျထား၍ ဆောင်ရွက်ရမည်။

၅။ အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ အမြန်ဆုံး အစီရင်ခံရမည်။

အမိန့်အရ-

(ဗိုလ်မှူးချုပ် အေဘယ်လ်)
အတွင်းရေးမှူး
[ဝန်ကြီး၊ အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုး
တိုးတက်မှုဝန်ကြီးဌာန]

စာအမှတ်၊ ရက-၁/မ-၀၂၀/၉၅(၁၉၉)။
ရက်စွဲ။ ၁၉၉၅ ခုနှစ်၊ မေလ ၈ ရက်။

ဖြန့်ဝေခြင်း -

၁။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ ဥက္ကဋ္ဌရုံး၊
၂။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ရုံး၊
၃။ အစိုးရအဖွဲ့ရုံး၊
၄။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန၊
၅။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၊

၆။ ကုန်သွယ်ရေး ဝန်ကြီးဌာန၊

၇။ ရထားပို့ဆောင်ရေး ဝန်ကြီးဌာန၊

၈။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်၊

၉။ ဥက္ကဋ္ဌ၊ နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်၊

၁၀။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန၊

၁၁။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန၊

၁၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း၊

၁၃။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန၊

၁၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့မီးရထား၊

၁၅။ ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှု
လုပ်ငန်းရှင်များအသင်း၊

၁၆။ ညွှန်ကြားရေးမှူး၊ ကုမ္ပဏီများညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှု
နှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊

၁၇။ အက်(စ်)အမ်အိုင်အင်ဒီကေးရှင်း လီမိတက်၊ အမှတ်(၁)၊ ကွမ်းခြံလမ်း၊
မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန်မြို့။

အမိန့်အရ-

(ခိုင်ခိုင်)
တွဲဖက်အတွင်းရေးမှူး ။



*မှ၁/၁/၉၁။